ကန့်သတ်

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့်** Srisuban Myanmar Company Limited **မှ ဆီအုန်းစိုက်ပျိုးထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်း ကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Srisuban Myanmar Company Limited<br>- U Myo Cho |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Srisuban International Limited, Srisuban Farm Co.,Ltd. နှင့် Mr. Tan Thaugsuban (Thailand) ၇၅%<br>- Mr.Chuchart Mektrakarn(Thailand) ၅%<br>- MCGRO International Co.,Ltd. (Myanmar)၂၀% |
| | လုပ်ငန်းအမျိုးအစား | - ဆီအုန်းစိုက်ပျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| ။ | တည်နေရာ | - ပဝကျေးတိုင် ကွင်းပြင်အမှတ် ၆ O.S.S ၊ တနင်္သာရီမြို့နယ်၊ ပဝကျေးရွာအုပ်စု၊ တနင်္သာရီတိုင်းဒေသကြီး |
| | မြေပိုင်ရှင် | - မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများ စီမံခန့်ခွဲရေးဗဟိုကော်မတီ |
| | မြေအကျယ်အဝန်း | - ၃၁,၃၅၀ ဧက အနက် မှ ကနဦး ၅,၀၀၀ ဧက |
| ၃။ | နှစ်စဉ်မြေငှားရမ်းခ | - မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများ စီမံခန့်ခွဲရေးနည်း ဥပဒေ (၂၀၁၂) တွင် ဖော်ပြထားချက်အရ နှစ်ရှည်ပင်စိုက်ပျိုးမြေဖြစ်လျှင် မြေခွန်ကင်းလွတ်ခွင့်ကာလမှာ ၅ နှစ်နှင့် မြေခွန်ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးသည့် နေ့မှ စ၍ နှစ်ရှည်ပင်စိုက်ပျိုးမြေ ၁ဧက အတွက် တစ်နှစ်လျှင် ကျပ် ၃၀၀၀ နှုန်း ဖြစ်သဖြင့် ဧက ၅၀၀၀ အတွက် မြေခွန် မှာ တစ်နှစ် ကျပ် ၁၅,၀၀၀,၀၀၀ |
| ။ | လုပ်ငန်းသက်တမ်း | - ၅၀နှစ် |
| | စိုက်ပျိုးရေးကာလနှင့် တည်ဆောက်ရေးကာလ | - ၄ နှစ် |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - US $ ၁၀ သန်း နှင့် ကျပ် ၁,၉၂၀ သန်း |

| ထည့်ဝင်သည့်အမျိုးအစား | **နိုင်ငံခြားကုမ္ပဏီ (US $ သန်း)** | **မြန်မာကုမ္ပဏီ (ကျပ် သန်း)** |
|---|---|---|
| ငွေသား | ၈.၀၀၀ | ၁,၉၂၀ |
| စက်နှင့် စက်ပစ္စည်း | ၁.၃၀၀ | |
| ကုန်ကြမ်းပစ္စည်း | ၀.၇၀၀ | |
| **စုစုပေါင်း** | **၁၀.၀၀၀** | **၁,၉၂၀** |

ကန့်သတ်

| | | |
|---|---|---|
| ၆။ | ဝန်ထမ်းအင်အား | - ၁,၅၆၇ |
| | ပြည်တွင်း | - ၁၅၆၁ ( ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာUS$ ၂၀၀ နှင့် အမြင့်ဆုံးလစာUS $ ၁,၀၀၀) |
| | ပြည်ပ | - ၆ (ပြည်ပဝန်ထမ်းတစ်ဦး၏အနိမ့်ဆုံးလစာ US $ ၃,၀၀၀ နှင့် အမြင့်ဆုံး လစာUS$ ၅,၀၀၀) |
| ၇။ | ရောင်းချမည့်စနစ် | - ပြည်ပသို့ ၁၀၀% ရောင်းချမည်ဖြစ်ပါသည်။ |
| ၈။ | ကုမ္ပဏီ၏ ဝင်ငွေ (၉ နှစ်) | - US $ ၂၃.၃၃၃ သန်း |
| | ကုမ္ပဏီ၏ အသုံးစရိတ် (၉ နှစ်) | - US $ ၁၉.၉၃၅ သန်း |
| | ကုမ္ပဏီ၏အသားတင်အမြတ် (၉ နှစ်) | - US $ ၃.၃၉၈ သန်း |
| ၉။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် ဝင်ငွေခွန်(၉)နှစ်မြောက် | - US $ ၁.၁၃၂ သန်း |
| | အရင်းကြေကာလ | - ၂၁ နှစ် |
| | အရင်းအနှီးအပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | ၄ % |
| ၁၀။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - ၇၂ KWh |
| ၁၁။ | **စိစစ်တင်ပြချက်** | အောက်ပါစက်ပစ္စည်းနှင့်လုပ်ငန်းသုံးပစ္စည်းများကိုတင်သွင်းမည်ဖြစ်ပါသည်- |
| | | (က) မြေရှင်းလင်းရန်အတွက် ၉၂ စီး |
| | | - Backhoe PC 200 (Komatsu Excavator) ၆၀ စီး |
| | | - Backhoe PC 60 (Komatsu Excavator) ၄ စီး |
| | | - Tractors D4 ၄ စီး |
| | | - Tractor Grader Model 120 G ၂ စီး |
| | | - Auto Mover Rollers ၂ စီး |
| | | - Farm Tractors ၄ စီး |
| | | - Tractors Loader (Komatsu) ၂ စီး |
| | | - 6-Wheel Trucks ၁၀ စီး |
| | | - 10-Wheel Trucks ၄ စီး |
| | | (ခ) စိုက်ပျိုးပြုပြင် ထိန်းသိမ်းရန်အတွက် ၁၈၃ စီး |
| | | - 4-Wheel Trucks ၆၅ စီး |
| | | - 6-Wheel Trucks ၅ စီး |
| | | - 10-Wheel Trucks ၁၂ စီး |
| | | - Pick-up Trucks 4*4 ၆ စီး |
| | | - Motorcycles ၉၅ စီး |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရကာ-၁/န-၉၀၈/၂၀၁၄ ( ၁၄၄ )
ရက်စွဲ၊ ၂၀၁၄ ခုနှစ် ဇန်နဝါရီလ ၆ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Srisuban Myanmar Company Limited မှ ဆီအုန်းစိုက်ပျိုးထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်း ကိစ္စ**

၁။ ထိုင်းနိုင်ငံ Srisuban International Limited၊ Srisuban Farm Co.,Ltd. နှင့် Mr. Tan Thaugsuban တို့မှ ၇၅%၊ ထိုင်းနိုင်ငံ Mr.Chuchart Mektrakarn မှ ၅% နှင့် မြန်မာနိုင်ငံ MCGRO International Co.,Ltd. မှ ၂၀% အစုရှယ်ယာ များထည့်ဝင်၍ မြန်မာ နိုင်ငံတွင် Srisuban Myanmar Company Limited တည်ထောင်ကာ ဖက်စပ်နိုင်ငံခြား ရင်းနှီး မြှုပ်နှံမှုဖြင့် တနင်္သာရီတိုင်းဒေသကြီး၊ တနင်္သာရီမြို့နယ်၊ ပဝကျေးရွာအုပ်စု၊ ပဝကျေးတိုင် ပြင်ကွင်းအမှတ် 6 O.S.S ရှိ မြေလွတ်မြေရိုင်း စုစုပေါင်းမြေဧရိယာ ၁၀,၃၅၀ ဧက အနက် ပထမ အဆင့်အနေဖြင့် မြေဧရိယာ ၅,၀၀၀ ဧကတွင် ဆီအုန်း စိုက်ပျိုး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့် အတူ Srisuban Myanmar Company Limited (ဖက်စပ်နိုင်ငံခြား ကုမ္ပဏီ) မှ မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများ စီမံခန့်ခွဲရေးဗဟိုကော်မတီသို့ မြေလွတ်မြေရိုင်း ဧက ၅၀၀၀ ရရှိနိုင်ရေး အတွက် လျှောက်ထားစာ၊ မြေကွက် တည်နေရာပြမြေပုံ၊ Srisuban International Limited၊ Mr.Chuchart Mektrakarn နှင့် MCGRO International Co.,Ltd. တို့ ချုပ်ဆိုထားသည့် ဖက်စပ် စာချုပ် (မူကြမ်း) တို့ကို တင်ပြထားပါသည်။ မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများ စီမံခန့်ခွဲရေးဥပဒေ အခန်း(၃) အပိုဒ် ၇ တွင် **ဗဟိုကော်မတီ သည် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ပြုလုပ်ရန် မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများ လုပ်ပိုင်ခွင့်၊ အသုံးပြုခွင့် လျှောက်ထားသည့် လုပ်ငန်းများကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ သဘောတူညီချက် ဖြင့် ခွင့်ပြုနိုင်သည်** ဟူသော ပြဋ္ဌာန်းချက်အရ ကော်မရှင်သို့ တင်ပြလာခြင်း ဖြစ်ပါသည်။

၃။ လုပ်ငန်းဆောင်ရွက်မည့် မြေလွတ် မြေလပ် မြေဧရိယာမှာ ၁၀,၃၅၀ ဧက အနက် မှ ၅,၀၀၀ ဧက (၂၀,၂၃၄,၃၀၀ စတုရန်းမီတာ) ဖြစ်ပါသည်။ အဆိုပါလုပ်ငန်းဆောင်ရွက်မည့် မြေတွင် သစ်တောမြေပါရှိ ခြင်းမရှိကြောင်းသိရှိရပါသည်။ မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများ စီမံ ခန့်ခွဲရေး နည်းဥပဒေ (၂၀၁၂) တွင် ဖော်ပြထားချက်အရ နှစ်ရှည်ပင်စိုက်ပျိုးမြေဖြစ်လျှင် မြေခွန် ကင်းလွတ်ခွင့်ကာလမှာ ၅ နှစ်နှင့် မြေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးသည့် နေ့မှ စ၍ နှစ်ရှည်ပင် စိုက်ပျိုးမြေ ၁ဧက အတွက် တစ်နှစ်လျှင် ကျပ် ၃၀၀၀ နှုန်း ဖြစ်သဖြင့် ဧက ၅၀၀၀ အတွက် မြေခွန် မှာ တစ်နှစ် ကျပ် ၁၅,၀၀၀,၀၀၀ ဖြစ်ပါသည်။ အာမခံကြေးမှာ တစ်ဧကလျှင် ကျပ် ၁၀,၀၀၀ ဖြစ်ပါ သည်။



E:\Srisuban\MIC Surisuban\Srisuban- MIC (Memo).doc

၄။ လုပ်ငန်းစီမံကိန်း ကာလမှာ ကနဦး (၅၀)နှစ် နှင့် တည်ဆောက်ရေးကာလ နှင့် စိုက်ပျိုး ရေးကာလမှာ ၄နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။ မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများ စီမံခန့်ခွဲရေး ဥပဒေ အခန်း(၄) ပုဒ်မ ၁၁ အရ "နှစ်ရှည်ပင်သီးနှံဖြစ်လျှင် စတင်ခွင့်ပြုသည့် နှစ်မှစ၍ နှစ်ပေါင်း ၃၀ ထက် မပိုစေဘဲ ခွင့်ပြုနိုင်သည်" ဟု ဖော်ပြပါရှိပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုမှာ US$ ၁၀ သန်းနှင့် ကျပ် ၁,၉၂၀ သန်း ဖြစ်ပါ သည်။ မြန်မာကုမ္ပဏီမှ ကျပ် ၁,၉၂၀ သန်းနှင့် နိုင်ငံခြားကုမ္ပဏီမှ ငွေသား US$ ၈ သန်း၊ စက်နှင့် စက်ပစ္စည်းတန်ဖိုး US$ ၁.၃၀၀ သန်း၊ ကုန်ကြမ်းပစ္စည်း (ပြည်ပ) US$ ၀.၇၀၀ သန်း တို့ ပါဝင် ပါသည်။ ပထမအဆင့် အတွက် ရင်းနှီးမြှုပ်နှံမှုအား ကုမ္ပဏီ၏ ကိုယ်ပိုင်မတည်ငွေရင်းဖြင့် ဆောင် ရွက်မည်ဖြစ်ပြီး ဒုတိယအဆင့် စိုက်ပျိုးရေးအတွက် လိုအပ်သော ချေးငွေအား Srisuban International Limited မှ သက်သာသော ချေးနှုန်းဖြင့် ချေးယူမည်ဖြစ်ကြောင်း၊ ပထမအဆင့် စိုက်ပျိုးရေးအတွက် စက်ယန္တရား (၃၆) စီး တန်ဖိုး အမေရိကန်ဒေါ်လာ ၁.၃၇ သန်းအား တစ်နှစ် အတွင်း တင်သွင်းမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။

၆။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်းဦးရေ (၁၅၆၁)ဦးနှင့် ပြည်ပမှ ကျွမ်းကျင် ဝန်ထမ်းဦးရေ (၆)ဦး စုစုပေါင်း (၁၅၆၇)ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်း၏ အနိမ့်ဆုံး လစာမှာ အမေရိကန် ဒေါ်လာ ၂၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ အမေရိကန်ဒေါ်လာ ၁,၀၀၀ ဖြစ် ကြောင်းနှင့် ပြည်ပဝန်ထမ်း၏ အနိမ့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၃,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ အမေရိကန်ဒေါ်လာ ၅,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ စိုက်ပျိုးထွက်ရှိလာသည့် ဆီအုန်းများကို ပြည်ပသို့ ၁၀၀% နှုန်း ရောင်းချမည် ဖြစ်ပြီး အဓိကအားဖြင့် ထိုင်းနိုင်ငံသို့ တင်ပို့မည်ဖြစ်ပါသည်။ မြေလွတ်မြေလပ် မြေရိုင်း ဗဟိုကော်မတီ၏ ခွင့်ပြုချက်ဖြင့် ပထမအဆင့် ဧက ၅,၀၀၀ မှ စတင်စိုက်ပျိုးပြီး ၅ နှစ်ကြာမြင့်ချိန်တွင် ပထမအဆင့် ဧက ၅,၀၀၀ အား အောင်မြင်စွာ စိုက်ပျိုးထုတ်လုပ်နိုင်ပြီဖြစ်၍ ဒုတိယအဆင့် ဧက ၁၅,၀၀၀ အား ထပ်မံစိုက်ပျိုးမည် ဖြစ်ပါသည်။ တည်ဆောက်ရေးနှင့် ပျိုး ထောင်ရေးကာလ ၄ နှစ် ကျော်လွန်ပြီးနောက် နှစ်စဉ် ဆီအုန်းခိုင် ထုတ်လုပ်မှု ခန့်မှန်းချက်မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) စီမံကိန်း(၅)နှစ်မြောက်- တန်ချိန် (၃၀,၀၀၀)

(ခ) စီမံကိန်း(၆)နှစ်မြောက်- တန်ချိန် (၈၀,၀၀၀)

(ဂ) စီမံကိန်း(၇)နှစ်မြောက်- တန်ချိန် (၁၂၅,၀၀၀)

(ဃ) စီမံကိန်း(၈)နှစ်မြောက်- တန်ချိန် (၁၅၅,၀၀၀)

(င) စီမံကိန်း(၉)နှစ်မြောက်- တန်ချိန် (၁၇၀,၀၀၀)

(စ) စီမံကိန်း(၁၀)နှစ်မြောက်မှ စ၍ နှစ်စဉ်- တန်ချိန် (၁၇၅,၀၀၀)

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် စီမံကိန်း (၉) နှစ်မြောက် တွင် ကုမ္ပဏီမှ ရရှိမည့် အကျိုးအမြတ်မှာ အောက်ပါ အတိုင်း ဖြစ်ပါသည်-

| | | US $ (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၂၃.၃၃၃ |
| (ခ) | အသုံးစရိတ် | ၁၉.၉၃၅ |
| (ဂ) | အသားတင်အမြတ် | ၃.၃၉၈ |



E:\Srisuban\MIC Surisuban\Srisuban- MIC (Memo).doc

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ (၉)နှစ်မြောက်တွင် ရရှိမည့် အကျိုး အမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် အမေရိကန်ဒေါ်လာ ၁.၁၃၂ သန်း ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၂၁နှစ် ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၄% ဖြစ် ပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြား ထားပါသည်-

(က) **တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့** မှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် နေရာသည် မြို့ပြစီမံကိန်းကို ထိခိုက်ခြင်းမရှိပါကြောင်း၊ မြို့နယ်ဒေသ၏ အလုပ်အကိုင်အခွင့် အလမ်း နှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူပြုနိုင်မည် ဖြစ်ပါကြောင်း၊ မြေ ဧရိယာ(၃၁၃၅၀) ဧက အနက် ပထမအဆင့်အနေဖြင့် မြေ ဧရိယာ (၅၀၀၀)ဧကတွင် ဆီအုန်းစိုက်ပျိုးထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြမှုအပေါ် ဒေသခံ များ၏ လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်း ကျင်ထိန်းသိမ်းမှုတို့အား တစ်စုံတစ်ရာ ထိခိုက်နိုင်ခြင်း မရှိပါ၍ တိုင်းဒေသကြီး အစိုးရအဖွဲ့ အနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-က**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန** မှ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုများကို ရှောင်ရှားနိုင်ရန်အတွက် တည်ဆောက်ခြင်း၊ လည်ပတ် ခြင်းနှင့် ထုတ်လုပ်ခြင်းစသည့် လုပ်ငန်းအဆင့်ဆင့်ဆောင်ရွက်ရာတွင် ပတ်ဝန်း ကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် စက်ပစ္စည်း ကိရိယာများနှင့် နည်းပညာ များကို အသုံးပြုရန်၊ အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှု ရေးထိခိုက် မှု မရှိစေရေး သို့မဟုတ် ပတ်ဝန်းကျင်နှင့် လူမှုရေးတို့အတွက် လုပ်ငန်းမစတင်မီ ပတ်ဝန်းကျင် ထိခိုက်မှုဆန်း စစ်ခြင်း (Environmental Impact Assessment-EIA) နှင့် လူမှုရေးထိခိုက်မှု ဆန်းစစ်ခြင်း (Social Impact Assessment-SIA) လုပ်ငန်းများ ဆောင်ရွက်၍ အစီရင် ခံစာတင်ပြရန်၊ ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှုများ မဖြစ်စေရေး သို့မဟုတ် ထိခိုက်မှု အနည်းဆုံးဖြစ်စေရေးအတွက် ဆောင်ရွက်ရမည့် အစီအမံများ၊ ပတ်ဝန်းကျင်ထိန်းသိမ်း ရေးအစီအမံများ၊ ၎င်း အစီအမံများကို အကောင်အထည် ဖော်ဆောင်ရွက်မည့် အချိန် ဇယား၊ ဝန်ထမ်းများနှင့် ကျခံသုံးစွဲမည့် ရန်ပုံငွေများ ပါဝင်သော ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Manangement Plan-EMP) ရေးဆွဲတင်ပြရန် နှင့် ပတ်ဝန်း ကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနနှင့် သက်ဆိုင်ရာ ဝန်ကြီး ဌာနများမှ ထုတ်ပြန်ထားသော ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ မူဝါဒ၊ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းစည်းကမ်းနှင့် ညွှန်ကြားချက် များကို တိကျစွာ လိုက်နာဆောင်ရွက်ရန်၊ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့၏ သဘောထားမှတ်ချက် ရယူ ဆောင်ရွက်ရန် သဘောထားပြန်ကြားထားပါသည်။ **ကုမ္ပဏီမှ IEE နှင့် EMP တို့ကိုလည်း LUCKY BIRD Environmental Studies and Geo-Informatics Solutions မှ ရေးဆွဲထား ပြီးဖြစ်ပါကြောင်း၊ ပတ်ဝန်းကျင် ထိခိုက်မှုများနှင့် ရှောင်ရှားနိုင်သည့် နည်းလမ်း များလျှော့ ချနိုင်မည့် အစီအမံများအား ထည့်သွင်းထားပြီး**

နှစ်စဉ် အမေရိကန် ဒေါ်လာ ၅ သိန်း အသုံး ပြုဆောင်ရွက်ရန် လျာထားပါကြောင်း တင်ပြထားပါသည်။ **နောက်ဆက်တွဲ-ခ**

(ဂ) **လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန** မှ ၎င်းကုမ္ပဏီသည် တနင်္သာရီတိုင်းဒေသကြီး၊ တနင်္သာရီမြို့နယ်၊ ပဝကျေးရွာအုပ်စုရှိ ပဝကျေးတိုင် ပြင်ကွင်း အမှတ် 6 OSS ၌ ဆီအုန်းစိုက်ပျိုးခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု ဧရိယာ ၃၁,၃၅၀ ဧကတွင် ပထမ အဆင့်အနေဖြင့် ဆီအုန်းဧက ၅၀၀၀ ကို စိုက်ပျိုး ခွင့်ပြုပါရန်ကိစ္စနှင့် ပတ်သက်၍ ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ဂ**

၁၁။ ငွေရေးကြေးရေး အထောက်အထားအဖြစ် MCGRO International Co.,Ltd. သည် CB Bank တွင် ၁၄-၈-၂၀၁၃ ရက်စွဲဖြင့် ကျပ် ၁၀၀,၀၀၀,၀၀၀ ဘဏ်စာရင်းကို လည်းကောင်း၊ KIATNAKIN Bank တွင် Mr.Chuchart Mektrakarn မှ ထိုင်းဘတ်ငွေ ကိန်းဂဏန်း ၈ လုံး ရှိကြောင်းနှင့် Srisuban International Limited မှ ထိုင်းဘတ်ငွေ သန်း ၅၀,၀၀၀,၀၀၀ (အမေရိကန်ဒေါ်လာ ၁.၆၇ သန်း) ရှိကြောင်း ထောက်ခံချက် တို့ကိုလည်းကောင်း တင်ပြထားပါသည်။ ကုမ္ပဏီမှတ်ပုံတင် အထောက်အထားများ အဖြစ် Srisuban International Limited ဟောင်ကောင်နိုင်ငံတွင် တရားဝင် ဖွဲ့စည်းထားသည့် ကုမ္ပဏီဖြစ်ကြောင်းနှင့် Srisuban Farm Co.,Ltd. သည် ထိုင်းနိုင်ငံတွင် တရားဝင်ဖွဲ့စည်းထားသည့် ကုမ္ပဏီဖြစ်ကြောင်း အထောက် အထားများကိုလည်းကောင်း၊ MCGRO International Co.,Ltd. သည် မြန်မာနိုင်ငံတွင် ဖွဲ့စည်း ထားကြောင်း အထောက်အထားများကို လည်းကောင်း တင်ပြထားပါသည်။

၁၂။ Srisuban Myanmar Company Limited မှ လုပ်ငန်းသဘာဝရှင်းလင်းချက်၊ ဝန်ထမ်းများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေးကာကွယ်ရေး စီမံချက်များကို တင်ပြထားပါသည်။ ထို့အပြင် Corporate Social Responsibility (CSR) Programme မှ ဒေသခံ လူ့အဖွဲ့အစည်းအတွက် နှစ်စဉ် အမေရိကန်ဒေါ်လာ ၅ သောင်း အကုန်အကျခံ၍ လူမှုစီးပွားဖွံ့ဖြိုးရေး ဆောင်ရွက်ပေးမည် ဖြစ်ကြောင်း ဖော်ပြထားပါသည်။

၁၃။ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် တင်ပြထားပါသည်။

၁၄။ အဆိုပါလုပ်ငန်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ၁/၂၀၁၃ ဖြင့် ထုတ်ပြန် ထားသည့် ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ချက်ရယူရန် လိုအပ်သည့် စီးပွားရေးလုပ်ငန်း အမျိုးအ စားများစာရင်း အမှတ်စဉ် (၃၀) တွင် စိုက်ပျိုးမြေဧရိယာ ပမာဏများပြားစွာ သီးနှံစိုက်ပျိုးထုတ် လုပ်ခြင်း လုပ်ငန်း အမျိုးအစား စာရင်းတွင် ပါဝင်ပါသည်။

၁၅။ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Srisuban Myanmar Company Limited မှ ဆီအုန်းစိုက်ပျိုးထုတ်လုပ်ခြင်းလုပ်ငန်းများ ဆောင်ရွက်ခွင့် ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြလာခြင်းအပေါ် လမ်းညွှန်မှု ခံယူအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ ညွှန်ကြားရေးမှူးချုပ်)

၅

## ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | Srisuban Myanmar Company Limited | **Srisuban International Limited**<br>Represented by:<br>(၁) Mr.Tan Thaugsuban<br>Director<br>Thailand<br>AA 1049132<br>(၂) Mr. Chuchart Metrakarn<br>Director<br>Thailand<br>B 650572<br>**MCGRO International Co.,Ltd.**<br>Represented by:<br>(၃) U Myo Cho<br>Director<br>Myanmar<br>12/ Ba Ha Na (Naing) 047288 | 1/1,Village No.2, Tha Sathon Sub-District, Phun Phin Disrict, Surat Thani Province, Thailand<br>149, Sak Lane, Bawron Niwet Subdistrict, Phra Nakhon District, Bangkok, Metropolis, Thailand<br>No.48A, Thanlwin Street, Shwe Taung Kyar, 2nd Ward, Bahan Township, Yangon, Myanmar |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ၀၉-၅၁၀၀၉၉၉

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ -

၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး - ဦးမျိုးချို၊ ဒါရိုက်တာ

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - ဆီအုန်းစိုက်ပျိုးထုတ်လုပ်ခြင်းလုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ - -

၆။ ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ - -

၇။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် - -